Green Palm Oil plantation Company Limited မှ တင်ပြသည့် အဆိုပြုလွှာနှင့် စပ်လျဉ်း၍ ဆီအုန်းပျိုးပင်များကိုစိုက်ပျိုးခြင်း၊ ဆီအုန်းစိုက်ခင်းလုပ်ငန်းများ ဆောင်ရွက်ခြင်းနှင့် ဆီအုန်းသီးနှံများ ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်မှု မှတ်တမ်း

| စဉ် | ဆောင်ရွက်သည့်အကြောင်းအရာ | ဆောင်ရွက်သည့် ရက်စွဲ | အကြောင်းပြန်ကြားသည့်ရက်စွဲ/ ကုမ္ပဏီမှတင်ပြသည့် ရက်စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | ကုမ္ပဏီမှ အတည်ချက်တင်ပြလာခြင်း | | ၈-၈-၂၀၁၈ | |
| ၂ | လုပ်ငန်းလိုအပ်ချက်အရ သက်ဆိုင်ရာဝန်ကြီးဌာနများသို့ သဘောထားတောင်းခံခြင်း | | | |
| | - တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့ | ၂၄-၈-၂၀၁၈ | ၁၁-၁၀-၂၀၁၈ | |
| | - စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန | ၂၇-၈-၂၀၁၈ | ၁၉-၉-၂၀၁၈ | |
| | - ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန(One Stop Service) | ၂၄-၈-၂၀၁၈ | ၂၉-၈-၂၀၁၈ | |
| ၃ | အဆိုပြုချက်စိစစ်ရေးအဖွဲ့ အစည်းအဝေးသို့ တင်ပြခြင်း | ၂၃/၂၀၁၈ (၁၃-၈-၂၀၁၈) | | |
| ၄ | အဆိုပြုချက်အား လက်ခံကြောင်း အကြောင်းကြားခြင်း | ၁၃-၈-၂၀၁၈ | | |
| ၅ | အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ဆုံးဖြတ်ချက်အား ကုမ္ပဏီသို့အကြောင်းကြားခြင်း | ၁၆-၈-၂၀၁၈ | ၂၄-၈-၂၀၁၈ | |
| ၆ | အဆိုပြုချက်အား ကော်မရှင်အစည်းအဝေးသို့ တင်ပြခြင်း | ၁၈/၂၀၁၈ (၂-၁၁-၂၀၁၈) | | |
| | **စုစုပေါင်းကြာမြင့်ရက်** | (၆၂) ရက် | | |

အကြောင်းအရာ။ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Green Palm Oil Plantation Company Limited မှ ဆီအုန်းပျိုးပင်များကိုစိုက်ပျိုးခြင်း၊ ဆီအုန်းစိုက်ခင်းလုပ်ငန်းများ ဆောင်ရွက်ခြင်းနှင့် ဆီအုန်းသီးနှံများ ရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ | - Green Palm Oil Plantation Company Limited |
| | ကမကထပြုသူ | - Mr. Prapol Phornprapha |
| | အဖွဲ့အစည်းပုံသဏ္ဌာန် | - ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု<br>- Sing Khon Palm Oil Pte. Ltd. (Singapore) ၉၄.၉၈%<br>- KyawMaw19Enterprise Manufacturing Co.,Ltd. (မြန်မာနိုင်ငံ) ၅.၀၀%<br>- Mr. Prapol Phornprapha (Thai) ၀.၀၁%<br>- Mr. Kawee Nganthavee (Thai) ၀.၀၁% |
| | လုပ်ငန်းအမျိုးအစား | - ဆီအုန်းပျိုးပင်များကို စိုက်ပျိုးခြင်း၊ ဆီအုန်းစိုက်ခင်း လုပ်ငန်းများ ဆောင်ရွက်ခြင်းနှင့် ဆီအုန်းသီးနှံများ ရောင်းချခြင်းလုပ်ငန်း |
| ၂။ | တည်နေရာ | - ကွင်းအမှတ်-၉/OSS (သိန်ခွန်းကြေးတိုင်ပြင်)၊ သိန်ခွန်းကျေးရွာ၊ တနင်္သာရီမြို့နယ်၊ မြိတ်ခရိုင်၊ တနင်္သာရီတိုင်းဒေသကြီး |
| ၃။ | မြေပိုင်ရှင်/မြေအသုံးပြုခွင့်ရရှိသူ | - Kyaw Maw 19 Enterprise Manufacturing Company Limited |
| | မြေအကျယ်အဝန်း | - စုစုပေါင်းမြေဧရိယာ ၃၉၉၅ ဧက<br>စိုက်ပျိုးရန် မြေဧရိယာ ၃၈၉၅ ဧက<br>အဆောက်အဦးဆောက်လုပ်ရန် မြေဧရိယာ ၁၀၀ ဧက |
| ၄။ | နှစ်စဉ်မြေငှားရမ်းခ | - အမေရိကန်ဒေါ်လာ ၉၇၀,၇၈၅<br>- (တစ်နှစ်တစ်ဧကလျှင်အမေရိကန်ဒေါ်လာ ၂၄၃ ဒေါ်လာ နှုန်း) |
| | မြေငှားရမ်းကာလ | - ၃၀ နှစ် နှင့် သက်တမ်းတိုး ၁၀နှစ် ၂ကြိမ် |
| ၅။ | လုပ်ငန်းသက်တမ်း | - ၃၀ နှစ် နှင့် သက်တမ်းတိုး ၁၀နှစ် ၂ကြိမ် |
| | တည်ဆောက်ရေးကာလ | - ၃ နှစ် |

၆။ စုစုပေါင်းမတည်ငွေရင်း ပမာဏ

- အမေရိကန်ဒေါ်လာ ၉,၇၅၈,၇၅၀

US$ သန်း

| | ပြည်တွင်း | ပြည်ပ | ချေးငွေ | စုစုပေါင်း |
|---|---|---|---|---|
| ငွေသား | ၀.၁၀ | ၀.၉၄ | ၁.၉၀ | ၂.၉၄ |
| စက်ပစ္စည်း | - | - | ၃.၇၅ | ၃.၇၅ |
| ကုန်ကြမ်းပစ္စည်း | - | ၀.၉၂ | ၂.၁၅ | ၃.၀၇ |
| စုစုပေါင်း | ၀.၁၀ | ၁.၈၆ | ၇.၈၀ | ၉.၇၆ |

၇။ ဝန်ထမ်းအင်အား

- **၃၉၉ ဦး**

ပြည်တွင်း

- ၃၉၄ ဦး (ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ အမေရိကန်ဒေါ်လာ ၁၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ အမေရိကန်ဒေါ်လာ ၁၇၁ ဖြစ်ပါသည်။)

ပြည်ပ

- ၅ ဦး(ပြည်ပဝန်ထမ်းတစ်ဦး၏အနိမ့်ဆုံးလစာမှာ အမေရိကန်ဒေါ်လာ ၅၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ အမေရိကန်ဒေါ်လာ ၁၄၂၉ ဖြစ်ပါသည်။)

၈။ ရောင်းချမည့်စနစ် နှစ်စဉ်ထုတ်လုပ်မှု ပုံမှန်နှစ်

- ပြည်တွင်း-၁၀၀%

| ပစ္စည်း အမျိုးအစား | အရေအတွက် (MT) | ရောင်းချမည့် ဈေးနှုန်း (Kyats/ MT) |
|---|---|---|
| Oil Palm Fruit | ၄,၉၃၀ | ၁၅၀,၀၀၀ |

၉။ လျှပ်စစ်ဓါတ်အားသုံးစွဲမှု (နှစ်စဉ်)

- ၉၂၆,၀၇၉ kWh

၁၀။ အခြားတင်ပြချက်

- Sing Khon Palm oil pte. Ltd.၊ Mr. Prapol Phornpraphaၢ Mr. Kawee Nganthavee နှင့် Kyaw Maw 19 Enterprise Manufacturing Company Limited တို့ ချုပ်ထားသည့် ဖက်စပ်စာချုပ်(မူကြမ်း) နှင့် Green Palm Oil Plantation Company Limited နှင့် Kyaw Maw 19 Enterprise Manufacturing Company Limitedတို့အကြား ချုပ်ဆိုမည့် မြေငှားစာချုပ် (မူကြမ်း) တို့အား တင်ပြထားပါသည်။

| | | |
|---|---|---|
| | | - ငွေရေးကြေးရေး အထောက်အထားအဖြစ် Kyaw Maw 19 Enterprise Manufacturing အမည်ဖြင့် မြန်မာနိုင်ငံ CB Bankတွင် ၂၇-၆-၂၀၁၈ ရက်စွဲဖြင့် ကျပ် ၃၂၆,၇၂၁,၃၈၃.၁၇ ရှိသော ငွေကြေးအထောက် အထား တင်ပြထားပါသည်။<br>- Sing Khon Palm oil Pte. Ltd. အမည်ဖြင့် စင်္ကာပူနိုင်ငံရှိ Bangkok Bankတွင် ၃၁-၅-၂၀၁၈ ရက်စွဲဖြင့် အမေရိကန်ဒေါ်လာ ၁၇၈,၈၂၂.၂၃ ရှိကြောင်း တင်ပြထားပါသည်။<br>- Sing Khon Palm oil Pte. Ltd. နှင့် Green Palm Oil Plantation Company Limited တို့ကြား ချေးငွေ စာချုပ် (မူကြမ်း)ကိုလည်း တင်ပြထားပါသည်။ |
| | | - ဒါရိုက်တာအဖွဲ့ဝင်များ၏ မှတ်ပုံတင်မိတ္တူနှင့် နိုင်ငံကူး လက်မှတ် မိတ္တူများ တင်ပြထားပါသည်။<br>- Green Palm Oil Plantation Company Limited မှ မီးဘေး ကာကွယ်ရေး အစီအစဉ်၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သန့်ရှင်းသာယာရေးစီမံချက်၊ ဝန်ထမ်းသက်သာချောင်ချိရေး စီမံချက်၊ လစာခွန် ပေးဆောင်မည်ဖြစ်ကြောင်း ဝန်ခံကတိ ပြုခြင်းတို့အား တင်ပြထားပါသည်။ |
| ၁၁။ | စိစစ်တင်ပြချက် | - လုပ်ငန်းအတွက် လိုအပ်မည့် ဓါတ်မြေဩဇာ၊ ဆီအုန်းပင်၊ Herbicide တို့အား ပြည်ပမှတင်သွင်းမည် ဖြစ်ပါသည်။<br>- တောရိုင်းမြေဧရိယာ ၁၀၀၈ဧကအား အစိုးရကခွင့်ပြုသော ဥပဒေနှင့်ညီညွတ်သည့် အခြားလုပ်ငန်းများအတွက် လုပ်ပိုင်ခွင့်၊ အသုံးပြုခွင့်လျှောက်ထားဆဲဖြစ်ကြောင်း တင်ပြထားပါသည်။ |

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊ မရက-၂/ ခ-၀၂၇ /၂၀၁၈( ၄၉၉ )

ရက်စွဲ ၊ ၂၀၁၈ ခုနှစ် အောက်တိုဘာလ ၂၆ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**

**တင်ပြသည့်အမှာစာ**

အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Green Palm Oil Plantation Company Limited မှ ဆီအုန်းပျိုးပင်များကိုစိုက်ပျိုးခြင်း၊ ဆီအုန်းစိုက်ခင်းလုပ်ငန်းများ ဆောင်ရွက်ခြင်းနှင့် ဆီအုန်းသီးနှံများ ရောင်းချခြင်းလုပ်ငန်းဆောင်ရွက် ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ**

၁။ စင်္ကာပူနိုင်ငံ Sing Khon Palm Oil Pte.Ltd. မှ ၉၄.၉၈%၊ ထိုင်းနိုင်ငံ Mr. Prapol Phornprapha မှ ၀.၀၁%၊ Mr. Kawee Nganthavee မှ ၀.၀၁%နှင့် မြန်မာနိုင်ငံမှ Kyaw Maw 19 Enterprise Manufacturing Company Limited မှ ၅.၀၀% အစုရှယ်ယာများ ထည့်ဝင်ကာ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Green Palm Oil Plantation Company Limited တည်ထောင်ပြီး တနင်္သာရီတိုင်းဒေသကြီး၊ မြိတ်ခရိုင်၊ တနင်္သာရီမြို့နယ်၊ သိန်ခွန်းကျေးရွာ၊ ကွင်းအမှတ်-၉.OSS(သိန်ခွန်းကြေးတိုင်ပြင်) အတွင်းရှိ နှစ်ရှည်ပင်စိုက်ပျိုးခွင့် ရရှိထားသည့် မြေလွတ်/မြေရိုင်းမြေ ဧရိယာ ၃၈၉၅ ဧကနှင့် အစိုးရက ခွင့်ပြုသော ဥပဒေနှင့် ညီညွတ်သည့် အခြားလုပ်ငန်းများအတွက် လုပ်ပိုင်ခွင့်၊ အသုံးပြုခွင့်လျှောက်ထားဆဲဖြစ်သည့် တောရိုင်းမြေဧရိယာ ၁၀၀ ဧက၊ စုစုပေါင်းမြေဧရိယာ ၃၉၉၅ဧကကို ငှားရမ်း၍ ဆီအုန်း ပျိုးပင်များကို စိုက်ပျိုးခြင်း၊ ဆီအုန်းစိုက်ခင်းလုပ်ငန်းများ ဆောင်ရွက်ခြင်းနှင့် ဆီအုန်းသီးနှံများ ရောင်းချခြင်းလုပ်ငန်းအားမြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြုချက် တင်ပြလာပါသည်။

၂။ မြေအသုံးပြုခွင့်ရရှိသူ Kyaw Maw 19 Enterprise Manufacturing Co.,Ltd.နှင့် မြေငှားသူ Green Palm Oil Plantation Company Limited တို့ ချုပ်ဆိုထားသော မြေငှားရမ်းခြင်းစာချုပ်များ၊ မြေလွတ်၊ မြေလပ်နှင့် မြေရိုင်းများ စီမံခန့်ခွဲရေးဗဟိုအဖွဲ့မှ နှစ်ရှည်သီးနှံ စိုက်ပျိုးရန်အတွက် Kyaw Maw 19 Enterprise Manufacturing Co.,Ltd.သို့ မြေဧရိယာ ၃၈၉၅ ဧက ခွင့်ပြုမိန့်နှင့် အစိုးရက ခွင့်ပြုသောဥပဒေနှင့် ညီညွတ်သည့် အခြားလုပ်ငန်းများအတွက် လုပ်ပိုင်ခွင့်၊ အသုံးပြုခွင့်လျှောက်ထားဆဲဖြစ်သည့် တောရိုင်းမြေဧရိယာ ၁၀၀ ဧကနှင့် ပတ်သက်၍ တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့မှ ကန့်ကွက်ရန်မရှိကြောင်း ပြန်ကြားစာ အထောက်အထားများအား တင်ပြထားပါသည်။

၃။ မြေငှားသက်တမ်းမှာ ကနဦး ၃၀ နှစ် ငှားရမ်းမည်ဖြစ်ပြီး နောက်ထပ် ၁၀ နှစ် ၂ ကြိမ် သက်တမ်းတိုးမည်ဖြစ်ပါသည်။ စုစုပေါင်းမြေ ၃၉၉၅ ဧကအား ငှားရမ်းမည်ဖြစ်ပြီး မြေငှားရမ်းခများမှာ တစ်နှစ်တစ်ဧကလျှင် အမေရိကန်ဒေါ်လာ ၂၄၃ ဒေါ်လာနှုန်းဖြင့် စုစုပေါင်းအမေရိကန်ဒေါ်လာ ၉၇၀,၇၈၅ ဖြစ်ပါသည်။

၄။ လုပ်ငန်းစီမံကိန်းကာလမှာ ကနဦး ၃၀ နှစ်နှင့် ၁၀ နှစ် ၂ကြိမ် ဖြစ်ပြီး တည်ဆောက်ရေးကာလမှာ ၃ နှစ် ကြာမြင့်မည် ဖြစ်ကြောင်း တင်ပြထားပါသည်။

၅။ လုပ်ငန်း၏ စုစုပေါင်း မတည်ငွေရင်းပမာဏမှာ အမေရိကန်ဒေါ်လာ ၉.၇၆သန်းဖြစ်ပါသည်။ မတည်ငွေရင်းထည့်ဝင်မှုများမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

US$/ သန်း

| | ပြည်တွင်း | ပြည်ပ | ချေးငွေ | စုစုပေါင်း |
|---|---|---|---|---|
| ငွေသား | ၁.၁၀ | ၁.၉၄ | ၁.၉၀ | ၂.၉၄ |
| စက်ပစ္စည်း | - | - | ၃.၇၅ | ၃.၇၅ |
| ကုန်ကြမ်းပစ္စည်း | - | ၁.၉၂ | ၂.၁၅ | ၃.၀၇ |
| **စုစုပေါင်း** | **၁.၁၀** | **၁.၈၆** | **၇.၈၀** | **၉.၇၆** |

၆။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်းဝန်ထမ်း ၃၉၄ ဦးနှင့် ပြည်ပဝန်ထမ်း ၅ ဦး စုစုပေါင်း ဝန်ထမ်းဦးရေ ၃၉၉ ဦး ခန့်ထားမည်ဖြစ်ပါသည်။ ပြည်တွင်းဝန်ထမ်း တစ်ဦး၏ အနိမ့်ဆုံးလစာမှာ အမေရိကန်ဒေါ်လာ ၁၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ အမေရိကန်ဒေါ်လာ ၁၇၁ ဖြစ်ပါသည်။ ပြည်ပဝန်ထမ်း တစ်ဦး၏ အနိမ့်ဆုံးလစာမှာ အမေရိကန်ဒေါ်လာ ၅၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ အမေရိကန်ဒေါ်လာ ၁၀၀၀ ဖြစ်ပါသည်။

၇။ အဆိုပြုလုပ်ငန်းမှ ထွက်ရှိလာသော Oil Palm Fruit များကို ပြည်တွင်း ၁၀၀% ရောင်းချမည်ဖြစ် ပါသည်။ ထုတ်လုပ်မှုအရေအတွက်နှင့် ရောင်းဈေးနှုန်းမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| ပစ္စည်းအမျိုးအစား | အရေ အတွက် (MT) | ရောင်းချမည့် ဈေးနှုန်း (ကျပ်/MT) |
|---|---|---|
| Oil Palm Fruit | ၄,၉၃၀ | ၁၅၀,၀၀၀ |

၈။ အဆိုပြုလုပ်ငန်းနှင့်ပတ်သက်၍ အောက်ပါအတိုင်း သဘောထားမှတ်ချက်များ ပြန်ကြားထားပါသည်-

(က) **တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး**မှ ကန့်ကွက်ရန်မရှိပါကြောင်း သဘောထား ပြန်ကြားထားပါသည်။ **နောက်ဆက်တွဲ-က**

(ခ) **စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန**မှ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်း ဆောင်ရွက် ခွင့်ပြုပါရန် တင်ပြသည့် မြေဧရိယာ(၃၉၉၅) ဧကအနက် မြေလွတ်၊

မြေရိုင်း ဧရိယာ(၃၈၉၅)ဧကသည် မြေလွတ်၊ မြေလပ်နှင့်မြေရိုင်းများ စီမံခန့်ခွဲရေး ဗဟိုကော်မတီမှ နှစ်ရှည်ပင်စိုက်ပျိုးရန် မြေလွတ်၊ မြေရိုင်းလုပ်ပိုင်ခွင့်၊ အသုံးပြုခွင့် ခွင့်ပြုပြီးဖြစ်ပါသဖြင့် ကန့်ကွက်ရန် မရှိသော်လည်း ကျန်မြေလွတ်၊ မြေရိုင်းဧရိယာ (၁၀၀)ဧကသည် Kyaw Maw 19 Enterprise Manufacturing Co.,Ltd. မှ အခြားနည်း အသုံးပြုရန်နှင့် ပတ်သက်၍ ပုံစံ(၄)ဖြင့် မြေလွတ်၊ မြေလပ်နှင့်မြေရိုင်း များစီမံခန့်ခွဲရေးဗဟိုကော်မတီသို့ လျှောက်ထားဆဲဖြစ်ပြီး စိစစ်ဆောင်ရွက် လျက်ရှိကြောင်း သဘောထားပြန်ကြားထားပါသည်။ **နောက်ဆက်တွဲ-ခ**

(ဂ) **သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန** မှ ကန့်ကွက်ရန် မရှိပါကြောင်းနှင့် **ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာနမှ** အဆိုပြုလုပ်ငန်းနှင့် စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment-EIA) ဆောင်ရွက်ရန်နှင့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP)ကိုဆောင် ရွက်ရန်လိုအပ်ပါကြောင်း သဘောထားပြန်ကြားထားပါသည်။ **နောက်ဆက် တွဲ-ဂ**

၉။ ငွေရေးကြေးရေး အထောက်အထားအဖြစ် Kyaw Maw 19 Enterprise Manufacturing Company Limited အမည်ဖြင့် C.B Bankတွင်၂၇-၆-၂၀၁၈ ရက်စွဲဖြင့်ကျပ် ၃၂၆,၇၂၀,၃၈၃.၁၇ ရှိကြောင်းနှင့် Sing Khon Palm Oil Pte. Ltd. အမည်ဖြင့် စင်္ကာပူနိုင်ငံရှိ Bangkok Bank တွင် ၃၁-၅-၂၀၁၈ ရက်စွဲဖြင့် အမေရိကန်ဒေါ်လာ ၁၇၈,၈၂၂.၂၃ ငွေကြေး အထောက်အထား တင်ပြထားပါသည်။

**စိစစ်တင်ပြချက်**

၁၀။ အောက်ပါအတိုင်းစိစစ်တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့် ဥပဒေရေးရာဌာနခွဲမှ ကော်မရှင်ခွင့်ပြုမိန့်နှင့် ဆုံးဖြတ်ချက်(မူကြမ်း)အား ဥပဒေနှင့်ညီညွတ်မှုရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။

(ခ) စက်ရုံ၌ အလုပ်သမားများအတွက် သက်သာချောင်ချိရေးအစီအစဉ်များ၊ မီးဘေး ကြိုတင်ကာကွယ်ရေး အစီအစဉ်နှင့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သန့်ရှင်း သာယာရေး စီမံချက်များကိုလည်း တင်ပြထားပါသည်။

(ဂ) လုပ်ငန်းအတွက် လိုအပ်မည့် ဓါတ်မြေဩဇာ၊ ဆီအုန်းပင်၊ Herbicide တို့အား ပြည်ပမှ တင်သွင်းမည်ဖြစ်ပါသည်။

(ဃ) တောရိုင်းမြေဧရိယာ ၁၀၀ဧကအား အစိုးရကခွင့်ပြုသော ဥပဒေနှင့်ညီညွတ်သည့် အခြား လုပ်ငန်းများအတွက် လုပ်ပိုင်ခွင့်၊ အသုံးပြုခွင့်လျှောက်ထားဆဲဖြစ်ကြောင်း တင်ပြထားပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၁။ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Green Palm Oil Plantation Company Limited မှ ဆီအုန်း ပျိုးပင်များကို စိုက်ပျိုးခြင်း၊ ဆီအုန်းစိုက်ခင်းလုပ်ငန်းများ ဆောင်ရွက်ခြင်းနှင့် ဆီအုန်းသီးနှံများ ရောင်းချခြင်းလုပ်ငန်း မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စနှင့် စပ်လျဉ်း၍ ခွင့်ပြုမိန့် ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ/မျှောစာတွဲ

နောက်ဆက်တွဲ-က

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့
## ထားဝယ်မြို့

စာအမှတ်၊ ၇၈၃၃/၄၀၀(၁)/၂၀-၁/ အဖရ(တနင်္သာရီ)

ရက် စွဲ ၊ ၂၀၁၈ ခုနှစ်၊ အောက်တိုဘာလ ၁၁ ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်
ရန်ကုန်တိုင်းဒေသကြီး

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂၄.၈.၂၀၁၈)ရက်စွဲပါစာအမှတ်၊ မရက-၂/ ခ-၀၂၈/၂၀၁၈(၃၉၂-က)

၁။ စင်္ကာပူနိုင်ငံမှ Sing Khon Palm Oil Pte. Ltd မှ (၉၄.၉၈%)၊ ထိုင်းနိုင်ငံမှ Mr. Prapol Phornprapha မှ (၀.၀၁%)၊ Mr.Kawee Nganthavee မှ (၀.၀၁%)နှင့် မြန်မာနိုင်ငံမှ Kyaw Maw 19 Enterprise Manufacturing Company Limited မှ (၅.၀၀%)ဖြင့် အစုရှယ်ယာများ ထည့်ဝင်ကာ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Green Palm Oil Plantation Company Limited တည်ထောင်ပြီး တနင်္သာရီတိုင်းဒေသကြီး၊ မြိတ်ခရိုင်၊ တနင်္သာရီမြို့နယ်၊ သိန်ခွန်းကျေးရွာ၊ ကွင်းအမှတ် (၉/OSS)၊ သိန်ခွန်းကြေးတိုင်ပြင်ကွင်းအတွင်းရှိ ခွင့်ပြုမိန့်ရရှိထားသည့် မြေလွတ်၊ မြေရိုင်းမြေဧရိယာ(၃၈၉၅)ဧကနှင့် အစိုးရကခွင့်ပြုသော ဥပဒေနှင့်ညီညွတ်သည့် အခြားလုပ်ငန်းများအတွက် လုပ်ပိုင်ခွင့်၊ အသုံးပြုခွင့် လျှောက်ထားဆဲဖြစ်သည့် မြေလွတ်၊ မြေရိုင်းမြေဧရိယာ(၁၀၀)ဧက၊ စုစုပေါင်းမြေဧရိယာ(၃၉၉၅)ဧကအား ငှားရမ်း၍ ဆီအုန်းပျိုးပင်များ စိုက်ပျိုးခြင်း၊ ဆီအုန်းစိုက်ခင်းလုပ်ငန်းများ ဆောင်ရွက်ခြင်းနှင့် သီးနှံများ ရောင်းချခြင်းလုပ်ငန်းများ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာသဖြင့် သဘောထားမှတ်ချက်အား ၂၀၁၈ ခုနှစ်၊ စက်တင်ဘာလ(၁၁)ရက်နေ့ နောက်ဆုံးထား၍ ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် မေတ္တာရပ်ခံလာပါသည်။

၂။ အဆိုပါကိစ္စနှင့်စပ်လျဉ်း၍ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် တည်ထောင်မည့် Green Palm Oil Plantation Company Limited မှ လျှောက်ထားမြေသည် မြေလွတ်၊ မြေရိုင်းအမျိုးအစားဖြစ်ခြင်းကြောင့် မြေယာအသုံးချခွင့်နှင့်ပတ်သက်ပြီး လုပ်ပိုင်ခွင့်ရရှိမြေဧရိယာ(၃၈၉၅)ဧကနှင့် ပတ်သက်၍ ကန့်ကွက်ရန်မရှိကြောင်းနှင့် လုပ်ပိုင်ခွင့်ရရှိရေး လျှောက်ထားဆဲမြေဧရိယာ(၁၀၀)ဧကနှင့်ပတ်သက်၍ ၂၀၁၂ ခုနှစ်၊ မြေလွတ်၊ မြေလပ်နှင့် မြေရိုင်းများစီမံခန့်ခွဲရေးဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းနှင့်အညီ လျှောက်ထားဆောင်ရွက်ခြင်း၊ ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှုအနည်းဆုံး

ဖြစ်စေရေး ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment-EIA)၊ ပတ်ဝန်းကျင်စီမံခန့်ခွဲမှု အစီအစဉ်(Environmental Management Plan-EMP)နှင့် လူမှုရေးဆိုင်ရာ အကျိုးပြုလုပ်ငန်းများ တာဝန်ခံဆောင်ရွက်မှု(Corporate Social Responsibility-CSR)နှင့် ပတ်သက်၍ ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများ နှင့်အညီ ဆောင်ရွက်ခြင်း၊ ဒေသခံပြည်သူများ၏ ဆန္ဒနှင့် သဘောထားရယူခြင်းတို့ကို စနစ်တကျ ဆောင်ရွက်မည်ဆိုပါက တိုင်းဒေသကြီးအစိုးရအဖွဲ့အနေဖြင့် **"ကန့်ကွက်ရန်မရှိပါကြောင်း"** ပြန်ကြား အပ်ပါသည်။

ဝန်ကြီးချုပ်( )

( မြင့်စန်း၊ စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီး )

မိတ္တူကို

လက်ခံစာတွဲ

မျှောစာတွဲ

နောက်ဆက်တွဲ - ခ

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ**
**စိုက်ပျိုးရေး၊ မွေးမြူရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန**
**ဝန်ကြီးရုံး**

NPF-8605
19.9.18

စာအမှတ်၊ စမက(၃) ၇၀၀၀၁ ( ၁၂၃၃ /၂၀၁၈)
ရက်စွဲ၊ ၂၀၁၈ ခုနှစ်၊ စက်တင်ဘာလ ၁၉ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းအပေါ် သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၇-၈-၂၀၁၈ ရက်စွဲပါစာအမှတ်၊ မရကာ-၂/ ခ-၀၂၇/ ၂၀၁၈ (၃၉၄)

၁။ Green Palm Oil Plantation Co., Ltd မှ တနင်္သာရီတိုင်းဒေသကြီး၊ မြိတ်ခရိုင်၊ တနင်္သာရီမြို့နယ်၊ သိန်ခွန်းကျေးရွာ၊ ကွင်းအမှတ် - ၉/OSS (သိန်ခွန်းကြေးတိုင်ပြင်) အတွင်းရှိ နှစ်ရှည်ပင် စိုက်ပျိုးခွင့်ရရှိထားသည့် စုစုပေါင်း မြေဧရိယာ (၃၉၉၅) ဧကကို ငှားရမ်း၍ ဆီအုန်း ပျိုးပင်များစိုက်ပျိုးခြင်း၊ ဆီအုန်းစိုက်ခင်းလုပ်ငန်းများဆောင်ရွက်ခြင်းနှင့် ဆီအုန်းသီးနှံများ ရောင်းချခြင်းလုပ်ငန်းအား ဆောင်ရွက်လိုပါသဖြင့် ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းအပေါ် သဘောထား ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းလာပါသည်။

၂။ အဆိုပါကိစ္စနှင့်ပတ်သက်၍ Green Palm Oil Plantation Co., Ltd မှ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြသည့် မြေဧရိယာ (၃၉၉၅) ဧကအနက် မြေလွတ်၊ မြေရိုင်းဧရိယာ (၃၈၉၅) ဧကသည် မြေလွတ်၊ မြေလပ်နှင့် မြေရိုင်းများ စီမံခန့်ခွဲရေးဗဟိုကော်မတီမှ နှစ်ရှည်ပင်စိုက်ပျိုးရန် မြေလွတ်၊ မြေရိုင်းလုပ်ပိုင်ခွင့်၊ အသုံးပြုခွင့် ခွင့်ပြုပြီးဖြစ်ပါသဖြင့် ကန့်ကွက်ရန်မရှိသော်လည်း ကျန်မြေလွတ်၊ မြေရိုင်းဧရိယာ (၁၀၀) ဧကသည် Kyaw Maw 19 Enterprise Manufacturing Co., Ltd မှ အခြားနည်းအသုံးပြုရန်နှင့်ပတ်သက်၍ ပုံစံ (၄) ဖြင့် မြေလွတ်၊ မြေလပ်နှင့် မြေရိုင်းများ စီမံခန့်ခွဲရေးဗဟိုကော်မတီသို့ လျှောက်ထားဆဲဖြစ်ပြီး စိစစ်ဆောင်ရွက်လျက်ရှိပါသဖြင့် တိုင်းဒေသကြီး မြေလွတ်၊ မြေလပ်နှင့် မြေရိုင်းများ စီမံခန့်ခွဲရေးလုပ်ငန်းအဖွဲ့၏ စိစစ်ချက်ရရှိပြီးမှသာလျှင် ဥပဒေ၊ လုပ်ထုံးလုပ်နည်းနှင့်အညီ ခွင့်ပြုရန် သင့်/မသင့်ကို ဆက်လက်ဆောင်ရွက်ရမည့်ကိစ္စဖြစ်ပါကြောင်း ပြန်ကြားအပ်ပါသည်။

19.9.18

ဒုတိယဝန်ကြီး (ကိုယ်စား)
(မျိုးတင့်ထွန်း၊ ဒုတိယအမြဲတမ်းအတွင်းဝန်)

မိတ္တူကို-

ညွှန်ကြားရေးမှူးချုပ်၊ စီမံကိန်းဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ စိုက်ပျိုးရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ လယ်ယာမြေစီမံခန့်ခွဲရေးနှင့် စာရင်းအင်းဦးစီးဌာန

ရုံးလက်ခံ/ မျှော့စာတွဲ

ရင်းနှီးမြှုပ်နှံမှုဥာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊ ၀၀၁/ MIC (OSS)/ ၀၁(၁၅/၁၈)
ရက်စွဲ၊ ၂၀၁၈ ခုနှစ်၊ ဩဂုတ်လ ၂၉ ရက်



သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **Green Palm Oil Plantation Company Limited မှ ဆီအုန်းပျိုးပင်များကို စိုက်ပျိုးခြင်း၊ ဆီအုန်းစိုက်ခင်းလုပ်ငန်းများ ဆောင်ရွက်ခြင်းနှင့်ဆီအုန်းသီးနှံများ ရောင်းချခြင်းလုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စနှင့်စပ်လျဉ်း၍ သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၄-၈-၂၀၁၈ ရက်စွဲပါစာအမှတ်၊ မရက-၂/ ခ-၀၂၇/ ၂၀၁၈(၃၉၂)

၁။ စင်္ကာပူနိုင်ငံရှိ Sing Khon Palm Oil Pte. Ltd. မှ ၉၄.၉၈%၊ ထိုင်းနိုင်ငံ Mr. Prapol Phornprapha မှ ၀.၀၁%၊ Mr. Kawee Nganthavee မှ ၀.၀၁% နှင့် မြန်မာနိုင်ငံမှ Kyaw Maw 19 Enterprise Manufacturing Company Limited မှ ၅% အစုရှယ်ယာများထည့်ဝင်ကာဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Green Palm Oil Plantation Company Limited တည်ထောင်ပြီး တနင်္သာရီတိုင်းဒေသကြီး၊ မြိတ်ခရိုင်၊ တနင်္သာရီမြို့နယ်၊ သိန်းခွန်းကျေးရွာ၊ ကွင်းအမှတ်- ၉/OSS (သိန်းခွန်းကြေးတိုင်ပြင်) အတွင်းရှိ နှစ်ရှည်ပင်စိုက်ပျိုးခွင့် ရရှိထားသည့် မြေလွတ်/မြေရိုင်း မြေစုစုပေါင်းဧရိယာ ၃၉၉၅ ဧကအနက်မှဧရိယာ ၃၈၉၅ ဧက (၁,၅၇၆.၂၅ စတုရန်းမီတာ)ကိုငှားရမ်း၍ ဆီအုန်းပျိုးပင်များကို စိုက်ပျိုးခြင်း၊ ဆီအုန်းစိုက်ခင်းလုပ်ငန်းများ ဆောင်ရွက်ခြင်းနှင့် ဆီအုန်းသီးနှံများ ရောင်းချခြင်းလုပ်ငန်းကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းနှင့်စပ်လျဉ်း၍ စိစစ်ပြီး သဘောထားမှတ်ချက် ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါပေးပို့လာသော ရင်းနှီးမြှုပ်နှံမှုဆိုင်ရာအဆိုပြုလွှာအား စိစစ်ရာတွင် အောက်ပါအချက်များကို လေ့လာတွေ့ရှိရပါသည် -

(က) ပေးပို့လာသော အဆိုပြုလွှာတွင် ကနဦးရင်းနှီးမြှုပ်နှံမှုကာလမှာ (၃၀) နှစ်ဖြစ်ပြီး၊ သက်တမ်းတိုး (၁၀) နှစ် (၂) ကြိမ်ဆောင်ရွက်မည်ဖြစ်ကာ၊ တည်ဆောက်ရေးကာလမှာ (၁) နှစ်ဖြစ်ကြောင်း၊

(ခ) အဆိုပြုလုပ်ငန်းအားမြေ ၁,၅၇၆.၂၅ စတုရန်းမီတာတွင် ဆီအုန်းပျိုးပင်များကို စိုက်ပျိုးခြင်း၊ ဆီအုန်းစိုက်ခင်းလုပ်ငန်းများ ဆောင်ရွက်ခြင်းနှင့် ဆီအုန်းသီးနှံများရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(ဂ) ဝန်ထမ်းများ သက်သာချောင်ချိရေး အစီအစဉ်များ၊ မီးဘေး ကြိုတင်ကာကွယ်ရေး အစီအမံများကိုလည်းထားရှိ ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(ဃ) လုပ်ငန်းမှရရှိလာမည့်အသားတင်အမြတ်ငွေ၏ (၂%) လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) လုပ်ငန်းများတွင် ထည့်ဝင်အသုံးပြုသွားမည် ဖြစ်ကြောင်း၊

(င) သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာနမှထုတ်ပြန်ထားသော ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံး/လုပ်နည်း၊ အမိန့်နှင့်ညွှန်ကြားချက်များကို လိုက်နာဆောင်ရွက်သွားမည်ဖြစ်ကာ လိုအပ်သော စွန့်ပစ်ရေပြန်လည်သန့်စင်သည့်စနစ်ကိုလည်း တည်ဆောက် တပ်ဆင်သွားမည်ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။

၃။ လုပ်ငန်းလည်ပတ်ဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ အောက်ဖော်ပြပါ ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှုများဖြစ်ပေါ်လာနိုင်ကြောင်း လေ့လာသုံးသပ်ရပါသည်-

(က) Green Palm Oil Plantation Company Limited မှ ဆီအုန်းပျိုးပင်များကို စိုက်ပျိုးခြင်း၊ ဆီအုန်းစိုက်ခင်းလုပ်ငန်းများ ဆောင်ရွက်ရာတွင် အဆောက်အဦများ ဆောက်လုပ်ရန်အတွက် မြေတူးခြင်း၊ မြေသားပြုပြင် ဖော်ထုတ်ခြင်းလုပ်ငန်းများမှ ထွက်ရှိလာမည့် မြေသား အမှုန်အမွှားများနှင့် ဖုန်မှုန့် များကြောင့် လေထုညစ်ညမ်းခြင်း၊

(ခ) သစ်များ စိုက်ပျိုးရန်အတွက် မြေပြုပြင်ခြင်းဆောင်ရွက်ရာ၌ ချုံများကိုခုတ်ထွင်၍ မီးရှို့ရှင်းလင်းခြင်းကြောင့် မြေဆီလွှာအရည်အသွေး ကျဆင်းခြင်းနှင့် မြေဆီလွှာရေတိုက်စားလာနိုင်ခြင်း၊

(ဂ) သစ်ပင်၊ သစ်တောများပြုန်းတီးခြင်း၊ တောရိုင်းတိရစ္ဆာန်တို့၏ နေထိုင်ကျက်စားရာ နေရာများပျက်စီးဆုံးရှုံးခြင်းတို့ကြောင့် ဇီဝမျိုးစုံမျိုးကွဲများ လျော့နည်းပျောက်ကွယ်နိုင်ခြင်း၊

(ဃ) ဓာတုဓာတ်မြေဩဇာနှင့် ပိုးသတ်ဆေးများကို အလွန်အကျွံသုံးစွဲပါက မြေဆီလွှာ၏ အရည်အသွေးကို ယိုယွင်းပျက်စီးစေနိုင်ခြင်း၊ ရာဘာသန့်စင်စက်ရုံမှ ထွက်ရှိလာမည့် ဆူညံသံ၊ စက်ဆီ၊ ချောဆီ၊ အခိုးအငွေ့များနှင့် တောမီးလောင်ကျွမ်းခြင်း၊ လေထုညစ်ညမ်းမှုဖြစ်ပေါ်စေနိုင်ခြင်းစသည့် ပတ်ဝန်းကျင်ထိခိုက်မှုပြဿနာများ ဖြစ်ပေါ်လာနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ Green Palm Oil Plantation Company Limited မှ ဆီအုန်းပျိုးပင်များကို စိုက်ပျိုးခြင်း၊ ဆီအုန်းစိုက်ခင်းလုပ်ငန်းများ ဆောင်ရွက်ခွင့်ပြုပရန်တင်ပြလာခြင်းကိစ္စနှင့်စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ ဆောင်ရွက်ရမည့်လုပ်ငန်းများကို အောက်ပါအတိုင်း သဘောထားမှတ်ချက်ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့်ကျန်းမာရေး ထိခိုက်ပျက် စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအားအသုံးပြုရန်နှင့် အဆိုပြုလွှာတွင်ဖော်ပြထားသည့် လူမှုရေးဆိုင်ရာ တာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) အတွက်အသား

တင်အမြတ်ငွေ၏ ၂% ကိုအသုံးပြုခြင်းအပါအဝင် ဆောင်ရွက်ပေးသွားမည့် ကတိကဝတ်များကို တိတိကျကျ လိုက်နာ အကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(ခ) အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ **ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment-EIA)** ကို ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်းအပိုဒ် (၄၉)၊ (၆၃) နှင့်အ ညီပြုစု ဆောင်ရွက်ရန်၊

(ဂ) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်း အပိုဒ် ၄၅၊ ၄၆ တို့အရစီမံကိန်းအဆိုပြုသူသည် ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းလုပ်ငန်း **(Environmental Impact Assessment-EIA)** မစတင်မီ အဆိုပါလုပ်ငန်းကို ဆောင်ရွက်မည့် တတိယပုဂ္ဂိုလ် (သို့မဟုတ်) အဖွဲ့အစည်းနှင့် စပ်လျဉ်း၍ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန၏ ဆုံးဖြတ်ချက်ရယူရန်၊

(ဃ) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်း အပိုဒ် ၄၇ မှ အပိုဒ် ၅၄ထိ ဖော်ပြချက်အရ စီမံကိန်းအဆိုပြုသူသည် နယ်ပယ်အတိုင်းအတာ သတ်မှတ်ခြင်းအစီရင်ခံစာနှင့်ဆောင်ရွက်မည့်လုပ်ငန်းတာဝန်များကို လမ်းညွှန်ချက်များနှင့်အညီ ဆောင်ရွက်သွားမည့် လုပ်ငန်းတစ်ခုချင်းအလိုက် လေ့လာဆန်းစစ်ပြုစု၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်း သိမ်းရေးဝန်ကြီးဌာနသို့တင်ပြ အတည်ပြုချက်ရယူရန်၊

(င) အတည်ပြုပြီးသော နယ်ပယ်အတိုင်းအတာ သတ်မှတ်ခြင်း အစီရင်ခံစာပါအချက်များအပေါ်အခြေခံ၍ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း အပိုဒ် (၆၃) ပါအချက်များနှင့်အညီ **ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းအစီရင်ခံစာ (EIA)** ကိုဆောင်ရွက်ပြီးသယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနသို့ ရေးဆွဲတင်ပြရန်၊

(စ) အထက်ပါလေ့လာဆန်းစစ်မှု ရလဒ်များကိုအခြေခံ၍ ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှုမဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့်အစီအစဉ် စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည် စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့်အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးစေရေး ဆောင်ရွက်မည့်လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေစသည်တို့ပါဝင်သည့် **ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP)** ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်။

(ဆ) ပြဌာန်းထုတ်ပြန်ထားပြီးဖြစ်သောပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာအရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင်ဖော်ပြပါရှိသည့် လိုက်နာဆောင်ရွက်ရမည့်အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များနှင့်အညီ လိုက်နာဆောင်

ရွက်ရန်နှင့် တင်ပြရမည့်အစီအစဉ်အလိုက် လိုအပ်သည့်ပုံစံများဖြည့်စွက်၍တစ်ပါတည်း တင်ပြရန်၊

(ဓ) သက်ဆိုင်ရာတိုင်းဒေသကြီး အစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် လုပ်ငန်းဆောင်ရွက်မည့် နေရာဒေသတွင် နေထိုင်သော ဒေသခံပြည်သူများ၏ဆန္ဒနှင့် သဘောထားများကိုလည်းရယူဆောင်ရွက်ရန်၊

(အောင်သူကျော်)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင် (ပတ်ဝန်းကျင်)
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

**မိတ္တူကို**

ပြည်ထောင်စုဝန်ကြီးရုံး
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ တနင်္သာရီတိုင်းဒေသကြီး
ရုံးလက်ခံ